(ဍ) စာချုပ်(မူကြမ်း)တွင် မြေငှားရမ်းအသုံးပြုသည့်ကာလသာပါရှိပြီး စာချုပ်သက်တမ်းသီးခြားပါရှိခြင်းမရှိ၍ စာချုပ်သက်တမ်းအား သတ်မှတ်ဖော်ပြရန် လိုအပ်ပါသည်၊

(ဎ) လိုအပ်သော နေရာအချို့တွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၄။ Golden Hanthawaddy Co; Ltd သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်းရှိမရှိ ၊ စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်ရန် ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ ဆောင်ရွက်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၅။ စာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၆။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

၁၉/၇/၂၀၁၄

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

( မေသီလင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ် )

ပို့ဆောင်ရေးဝန်ကြီးဌာန

ဝန်ကြီးရုံး



M-017/E/ DKKTA//Thandwe Airport (14-7-2014).

ပို့ဆောင်ရေးဝန်ကြီးဌာန

**လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန မှ**

ပိုင်ဆိုင်သော သံတွဲလေဆိပ်တွင် တည်ရှိသည့်

မြေနေရာအား ငှားရမ်း၍ တည်ဆောက်၊ လည်ပတ်၊ လွှဲပြောင်း စနစ်ဖြင့်

3 Stars အဆင့်ရှိ Thandwe Airport Beach Hotel

တည်ဆောက်ရေးအတွက်

**ပို့ဆောင်ရေးဝန်ကြီးဌာန**

**လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန**

နှင့်

**Golden Hanthawaddy Co., Ltd**

တို့အကြား ချုပ်ဆိုသည့်

# မြေငှားရမ်းခြင်းသဘောတူစာချုပ်

## တည်ဆောက်၊ လည်ပတ်၊ လွှဲပြောင်း စနစ်ဖြင့်
## မြေငှားရမ်း သဘောတူစာချုပ်

ဤ တည်ဆောက်၊လည်ပတ်၊လွှဲပြောင်း စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ် ဩဂုတ်လ (      )ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တွင် ပြုလုပ်ချုပ်ဆိုကြသည်မှာ-

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့၌ ရုံးခန်းဖွင့်လှစ်ထားရှိသော ပို့ဆောင်ရေးဝန်ကြီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဝင်းဆွေထွန်း ကိုယ်စားပြုသော လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန (နောင်တွင် "မြေအငှားချထားသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်း ခံရသူများလည်း ပါဝင်သည်) က တစ်ဘက်

နှင့်

ဦးအေးထွန်း၊ နိုင်ငံသားစိစစ်ရေးကဒ်အမှတ်၊ ၁၂/မဂတ(နိုင်)၀၂၄၀၂၈ မန်နေးဂျင်းဒါရိုက်တာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ကုမ္ပဏီများအက်ဥပဒေနှင့်အညီ ဖွဲ့စည်းထားပြီး ရန်ကုန်တိုင်း၊ လသာမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ်(၄၀၂)၌ တရားဝင်ရုံးခန်း ဖွင့်လှစ်ထားရှိသည့် Golden Hanthawaddy Co., Ltd (နောင်တွင် "မြေအငှားချထားခြင်းခံရသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏တရားဝင် ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများလည်းပါဝင်သည်) က အခြားတစ်ဘက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ ဤ တည်ဆောက်၊လည်ပတ်၊လွှဲပြောင်းစနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြုလုပ်ချုပ်ဆိုကြပါသည်။

### ၁။ **ရည်ရွယ်ချက်**

(၁)မြေအငှားချထားသူသည် နိုင်ငံတကာ ခရီးသွားလုပ်ငန်းနှင့် ဟိုတယ်လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်စေရေးအတွက် 3 Stars အဆင့်ရှိ ဟိုတယ် Type A (၂) ထပ် ဘန်ဂလို(၆)လုံး၊ Type B (၂) ထပ် ဘန်ဂလို(၆)လုံး၊ Type C (၁) ထပ် ဘန်ဂလို(၃)လုံးနှင့် Type D (၁) ထပ် ဘန်ဂလို (၅)လုံး)တို့အား ဆောက်လုပ်ရန်အတွက် မိမိဌာနပိုင် သံတွဲလေဆိပ်နယ်မြေအတွင်းရှိစုစုပေါင်း(၆)ဧကအကျယ်ရှိ မြေနေရာကို မြေအငှားချထားခြင်းခံရသူ သို့ (၂၅)နှစ်ငှားရမ်းပြီးနောက် (၅)နှစ် နှစ်ကြိမ် သက်တမ်းတိုး၍ တည်ဆောက်၊လည်ပတ်၊လွှဲပြောင်း စနစ်ဖြင့် ငှားရမ်းအသုံးပြုခွင့်ပေးရန် ဖြစ်ပါသည်။

(၂) မြေအငှားချထားခြင်းခံရသူသည် မြေအငှားချထားသူပိုင်၊ သံတွဲလေဆိပ် နယ်မြေအတွင်း စုစုပေါင်း (၆) ဧက အကျယ်ရှိမြေနေရာအား (၂၅) နှစ်ငှားရမ်းပြီး ယင်းမြေပေါ်တွင် အပိုဒ်(၁) ၌ဖော်ပြထားသော အရွယ်အစားများရှိ 3 Stars အဆင့်ရှိ ဟိုတယ်ကို တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်းနှင့် ယင်းလုပ်ငန်းနှင့် စပ်ဆိုင်သော လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရန်ဖြစ်ပါသည်။

(၃) မြေငှားရမ်းခွင့်ကာလ ကုန်ဆုံးသည့်အခါ မြေအငှားချထားခြင်းခံရသူမှ အဆိုပါ မြေနှင့်တကွ ယင်းမြေပေါ်တွင် ဆောက်လုပ်ထားသော 3Stars အဆင့်ရှိ ဟိုတယ်နှင့်ဆက်စပ် အဆောက်အဦအားလုံးကို မြေအငှားချထားသူသို့ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရန် ဖြစ်ပါသည်။

## ၂။ **ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း**

(၁) မြေအငှားချထားသူသည် ဤစာချုပ်၏ နောက်ဆက်တွဲ(က)တွင် ဖော်ပြပါရှိသော မြေကို ပိုင်ဆိုင်သူဖြစ်ပြီး ယင်းမြေအား အငှားချထားရန် တည်ဆဲဥပဒေအရ လုပ်ပိုင်ခွင့်နှင့် အာဏာအပ်နှင်းခြင်းခံရ၍ ဤစာချုပ်ကို တရားဝင်ချုပ်ဆိုနိုင်ခွင့်ရှိသူဖြစ်ပါသည်။

(၂) မြေအငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံကုမ္ပဏီအက်ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်ပြီး ဤစာချုပ်ပါလုပ်ငန်းအား အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးအင်အား လုံလောက်တောင့်တင်းကြောင်းနှင့် ဤစာချုပ်ကို တရားဝင်ချုပ်ဆိုနိုင်ခွင့်ရှိကြောင်း အာမခံပါသည်။

## ၃။ **ငှားရမ်းခွင့်ပြုသည့်မြေနေရာ**

မြေအငှားချထားသူအပိုင်ဖြစ်သည့် သံတွဲလေဆိပ်နယ်မြေအတွင်း လေဆိပ်အဆောက်အဦ၏ အရှေ့ဘက်၊ ကမ်းခြေနှင့်ကပ်လျက်တွင် တည်ရှိသော မြေဧရိယာ စုစုပေါင်း (၆) ဧက အကျယ်ရှိ မြေနေရာဖြစ်သည်။ ယင်းမြေ၏ တည်နေရာအသေးစိပ် ဖော်ပြသည့်မြေပုံကို **နောက်ဆက်တွဲ (က)** ဖြင့် ပူးတွဲထားပြီး ယင်းမြေပုံသည် ဤစာချုပ်၏ တစ်စိပ်တစ်ဒေသ ဖြစ်ပါသည်။

## ၄။ **သယံဇာတတွေ့ရှိခြင်း**

ငှားရမ်းခွင့်ပေးသည့်မြေတွင် စာချုပ်သက်တမ်းအတွင်း ယင်းမြေ၏ အတွင်း၊ အောက်၊ ဝန်းကျင်ရှိ သဘာဝအရင်းအမြစ် သယံဇာတများ၊ ဓာတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မီးသွေး၊ ရေနံ၊ ဓာတ်ငွေ့၊ ရတနာကျောက်များ၊ ရှေးဟောင်းပစ္စည်းများရှိလျှင် မြေအငှားချထားသူနှင့် သက်ဆိုင်ရာနိုင်ငံတော် အဖွဲ့အစည်းသို့ ချက်ချင်းအကြောင်းကြားတင်ပြပေးရမည်။ ထိုပစ္စည်းကို သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

၅။ **မြေငှားရမ်းခွင့်ပြုသည့်ကာလ**

(၁) မြေငှားရမ်းခွင့်ပြုသည့်ကာလမှာ ဤစာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုပြီး စာချုပ်စတင် အကျိုးသက်ရောက် အတည်ဖြစ်သည့်နေ့မှစ၍ နှစ်ပေါင်း(၂၅)နှစ် ဖြစ်သည်။

(၂) မြေငှားရမ်းကာလ ကနဦး (၂၅)နှစ် ကုန်ဆုံးသည့်အခါ မြေအငှားချထားခြင်းခံရသူမှ ဆက်လက်ငှားရမ်းလိုပါက သက်တမ်း တစ်ကြိမ်လျှင်(၅)နှစ်ဖြင့်သက်တမ်း (၂)ကြိမ် တိုးနိုင်သည်။ငှားရမ်းသက်တမ်းကာလတိုးခြင်းကို သက်တမ်းမကုန်ဆုံးမီ(၆)လကြိုတင်၍ စာဖြင့် လျှောက်ထားနိုင်သည်။

(၃) မြေအငှားချထားသူသည် ငှားရမ်းသက်တမ်းကာလတိုးခြင်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် ပို့ဆောင်ရေးဝန်ကြီးဌာနသို့ တင်ပြပြီး သဘောတူအတည်ပြုချက်ရရှိပါက ဆက်လက်၍ ငှားရမ်းအသုံးပြုခွင့်ပေးနိုင်သည်။

(၄) မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ပို့ဆောင်ရေးဝန်ကြီးဌာန၏ သဘောတူအတည်ပြုချက် ဖြင့် ငှားရမ်းခြင်းကာလကို ထပ်မံတိုးပေးရန် သဘောတူပါက ငှားရမ်းခကို (၅)နှစ်တစ်ကြိမ် နှစ်ဦးနှစ်ဘက်ပြန်လည်ညှိနှိုင်းပြီး နှစ်ဦးနှစ်ဘက် သဘောတူညီချက်ဖြင့် သတ်မှတ်ရမည်။ သို့ရာတွင် ငှားရမ်းခတိုးခြင်း သို့မဟုတ် လျှော့ခြင်း နှင့် စပ်လျဉ်း၍ ယခင် နောက်ဆုံးငှားရမ်းခ၏ (၁၅%)ထက်ပိုပြီးတိုးခြင်း လျှော့ခြင်းမပြုလုပ်ရ။

၆။ **မြေအငှားချထားသူအား ငှားရမ်းသည့်မြေ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

မြေအငှားချထားခြင်းခံရသူသည် မြေငှားရမ်းအသုံးပြုခွင့်ကာလ ကုန်ဆုံးသည့်အခါဖြစ်စေ စာချုပ်ရပ်စဲရန် အကြောင်းတစ်ရပ်ရပ်ပေါ်ပေါက်၍ ဤစာချုပ်ကို ရပ်စဲရလျှင်ဖြစ်စေ ငှားရမ်း အသုံးပြုသည့် မြေနှင့် ယင်းမြေပေါ်တွင် ဆောက်လုပ်ထားသော 3 Stars အဆင့်ရှိ Hotel အဆောက်အဦများနှင့် ဆက်စပ်အဆောက်အဦများကို ကောင်းမွန်သောအနေအထားဖြင့် မည် သည့် အဖိုးစားနားမျှမပါဘဲ (၁)လအတွင်း မြေအငှားချထားသူထံသို့ အပြီးအပိုင် ပြန်လည် လွှဲပြောင်းပေးအပ်ရမည်။

**စာချုပ်အတည်ဖြစ်ခြင်း**

၇။ ဤသဘောတူစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ပို့ဆောင်ရေးဝန်ကြီးဌာနနှင့် သက်ဆိုင်ရာ အဖွဲ့အစည်း၏ သဘောတူခွင့်ပြုချက်ဖြင့် စာချုပ်ဝင်နှစ်ဦးနှစ်ဘက် လက်မှတ် ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်၍ အတည်ဖြစ်စေရမည်။ စာချုပ်သက်တမ်း မှာ မြေငှားရမ်းအသုံးပြုခွင့် ပေးသည့်ကာလအတိုင်းဖြစ်သည်။

၈။ **မြေအသုံးချခွင့်အတွက် အာမခံပရီမီယံကြေး (Land Use Premium)**

မြေနေရာအသုံးချခွင့် Land Use Premium အဖြစ် မြန်မာကျပ် ၃၀၀,၀၀၀,၀၀၀/-(ကျပ်သိန်းသုံးထောင်တိတိ)ကို မြေအငှားချထားခြင်းခံရသူမှ မြေအငှားချထားသူသို့ ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း ငွေကျပ် ၁၅၀,၀၀၀,၀၀၀/- (ကျပ်သိန်းတစ်ထောင့်ငါးရာတိတိ)ပေးသွင်းရန်နှင့် ကျန်ငွေကျပ် ၁၅၀,၀၀၀,၀၀၀/-(ကျပ်သိန်းတစ်ထောင့်ငါးရာတိတိ)ကို ဤစာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှ (၁၈)လပြည့်သည့် (အစိုးရရုံးဖွင့်ရက်)တွင် ထပ်မံပေးသွင်းရန်ဖြစ်ပါသည်။

၉။ **အကျိုးအမြတ်ပေးချေခြင်းစနစ်**

အငှားချထားခြင်းခံရသူမှ အငှားချထားသူကို တည်ဆောက်ရေးကာလ (၁၈) လ ပြည့်သည့်နောက်လမှစ၍ ယင်းပြက္ခဒိန်နှစ်ကုန်ဆုံးသည့် ဒီဇင်ဘာလအထိ Thandwe Airport Beach Hotel လုပ်ငန်းမှရရှိသော စုစုပေါင်းဝင်ငွေ(Before Tax) အပေါ်တွင် (၁၅%)အား ပေးသွင်းရမည်။နောက်ငှားရမ်းနှစ်များအတွက် နှစ်စဥ် ဇန်နဝါရီလဆန်း (၅) ရက်မတိုင်မီ Thandwe Airport Beach Hotel လုပ်ငန်းမှရရှိသော စုစုပေါင်းဝင်ငွေ(Before Tax) အပေါ်တွင် (၁၅%)အား ပေးသွင်းရမည်။

၁၀။ **မြေအငှားချထားသူ၏ တာဝန်များ**

မြေအငှားချထားသူသည် အောက်ဖော်ပြပါတာဝန်များကို ဆောင်ရွက်ရန်ဖြစ်ပါသည်-

(၁)ဥပဒေနှင့်အညီ မြေအငှားချထားခွင့်ရရှိရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ပို့ဆောင်ရေးဝန်ကြီးဌာနနှင့် သက်ဆိုင်ရာအဖွဲ့အစည်း၏ သဘောတူအတည်ပြုချက်တို့ကို လျှောက်ထားတင်ပြရာတွင် လိုအပ်သည်များကို ပံ့ပိုးပေးရမည်။

(၂)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ပို့ဆောင်ရေးဝန်ကြီးဌာနနှင့် သက်ဆိုင်ရာအဖွဲ့အစည်း၏သဘောတူအတည်ပြုချက်တို့ကိုရရှိသည့်အခါ အငှားချထားခြင်းခံရသူအား မြေအငှားချထားရမည်။

(၃)အဆိုပါအငှားချထားသည့်မြေပေါ်တွင် အငှားချထားခြင်းခံရသူမှ နိုင်ငံတကာအဆင့်မီ 3 Stars ဟိုတယ် အဆောက်အဦများကို တည်ဆောက်ပြီး ဟိုတယ်နှင့် ဆက်စပ်လုပ်ငန်းများလုပ်ကိုင် ဆောင်ရွက်ရန်အတွက် သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းများထံမှ လိုအပ်သော ခွင့်ပြု ချက်များရရှိရန် လျှောက်ထားတင်ပြရာတွင် လိုအပ်သည်များကို ပံ့ပိုးပေးရမည်။

(၄)မြေခွန်(ရှိလျှင်) ပေးဆောင်ရမည်။

၁၁။ **မြေအငှားချထားခြင်းခံရသူ၏ တာဝန်များ**

မြေအငှားချထားခြင်းခံရသူသည် အောက်ဖော်ပြပါတာဝန်များကို ဆောင်ရွက်ရန်ဖြစ်ပါသည်-

(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ပို့ဆောင်ရေးဝန်ကြီးဌာနနှင့် သက်ဆိုင်ရာအဖွဲ့အစည်း၏ သဘောတူအတည်ပြု ချက်ရရှိသည့်အခါ ဤစာချုပ်ပါမြေအား ငှားရမ်းခွင့် ရရှိသည့်နေ့မှစ၍ တည်ဆောက် ရေးကာလ (၁၈) လ မှအပ အကျိုးအမြတ်ပေးချေခြင်း ကို အထက်အပိုဒ်တွင် ဖော်ပြပါ ရှိသည့်အတိုင်း မြေအငှားချထားသူအား ပေးချေရမည်။

(၂) ဤစာချုပ်ပါ တည်ဆောက်ရေးလုပ်ငန်းများကို ခန့်မှန်းငွေကြေးတန်ဖိုး စုစုပေါင်း ကျပ်သိန်းပေါင်း(၃၀၅၉၁) ခန့် အကုန်အကျခံ တည်ဆောက်ရမည်။

(၃) တည်ဆောက်ရေးကာလကို ဤစာချုပ် နှစ်ဦးနှစ်ဘက်အပေါ် စတင်အကျိုးသက်ရောက် အတည်ဖြစ်သည့်နေ့မှစ၍ နိုင်ငံတကာအဆင့်မီ ကြယ်သုံးပွင့်ဟိုတယ် အဆောက်အဦနှင့် ဆက်စပ်လုပ်ငန်းတို့ကို ၁၈ (တစ်ဆယ့်ရှစ်) လ အတွင်း သတ်မှတ်ထားသော စံချိန်စံညွှန်း များနှင့်အညီ အပြီးတည်ဆောက်ရမည်။

(၄) ဤစာချုပ် အကျိုးသက်ရောက်မှုရှိသည့်နေ့မှစ၍ မြေခွန်မှအပ စည်ပင်သာယာခွန်နှင့် အခြားအခွန်အခများကို ပေးဆောင်ရမည်။

(၅) အဆောက်အဦများတည်ဆောက်ရာတွင် ရေဆိုးများမရှိစေရန်၊ ရေစီးရေလာကောင်းမွန်ရေး၊ စွန့်ပစ်စနစ်တည်ဆောက်ရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရေး စသည်များနှင့် သက်ဆိုင်သောစနစ်များကို တည်ဆဲဥပဒေ၊ နည်းဥပဒေ ညွှန်ကြားချက်များနှင့်အညီ စီမံ ဆောင်ရွက်ရမည်။

(၆) ဆောက်လုပ်ပြီးသော နိုင်ငံတကာ အဆင့်မီကြယ်(၃)ပွင့် ဟိုတယ်နှင့် ဆက်စပ်လုပ်ငန်း များအတွက် လိုအပ်သည့် အာမခံများကို မြန်မာ့အာမခံလုပ်ငန်းဥပဒေနှင့်အညီ အာမခံ များ ထားရှိရမည်။

(၇) ဤစာချုပ်ပါငှားရမ်းမြေ၌ ဥပဒေနှင့်ငြိစွန်းသော လုပ်ငန်းများဆောင်ရွက်ခြင်းမပြုရ။

(၈) အငှားချထားသည့် မြေကွက်တစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ သို့မဟုတ် ဤစာချုပ်ပါ လုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ မြေအငှားချထား သူ၏စာဖြင့် ကြိုတင်သဘောတူခွင့်ပြုချက်မရရှိဘဲ အခြားပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်း အား ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း၊ တစ်နည်းနည်းဖြင့် လွှဲအပ်ပေးခြင်း၊ ပေါင်နှံ ခြင်း၊ ရောင်းချခြင်းမပြုလုပ်ရ။

(၉) မြေငှားရမ်းသည့် သက်တမ်းကုန်ဆုံးသည့်အခါဖြစ်စေ စာချုပ်ရပ်စဲသည့်အခါဖြစ်စေ ငှားရမ်းအသုံးပြုသည့်မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦနှင့် လုပ်ငန်းအရပ်ရပ်တို့ကို ကောင်းမွန်သော အနေအထားဖြင့် မြေအငှားချထားသူအား မည့်သည့်အဖိုးစားနားမျှ မပါဘဲ၊ အပြီးအပိုင်ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

၁၂။ **စာချုပ်ရပ်စဲခြင်း**

ဤစာချုပ်သည် အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ်ဖြစ်ပေါ်လျှင် ရပ်စဲပြီးဆုံးပြီးဖြစ်သည်-

(၁) ဤစာချုပ်ဝင်နှစ်ဦးနှစ်ဘက်တို့မှ စာချုပ်ရပ်စဲရန်စာဖြင့် သဘောတူကြပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ပို့ဆောင်ရေးဝန်ကြီးဌာန၏ သဘောတူအတည်ပြုချက်ဖြင့် ရပ်စဲခြင်း၊

(၂) မြေငှားရမ်းအသုံးပြုခွင့်ပေးသည့်ကာလကုန်ဆုံးခြင်း၊

(၃) မြေအငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါ တာဝန်တစ်ရပ်ရပ် သို့မဟုတ် စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ခြင်း၊

(၄) မြေအငှားချထားခြင်းခံရသူသည် မူလရည်ရွယ်ချက်နှင့် ရည်မှန်းချက်တို့ကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ကြီးမားသောဆုံးရှုံးမှု အဆက်မပြတ်ဖြစ်ပေါ်ခြင်း၊

(၅) မလွှဲမရှောင်နိုင်သော သဘာဝဘေးအန္တရာယ် တစ်ရပ်ရပ်ဖြစ်ပေါ်ခြင်းကြောင့် လုပ်ငန်းကို (၆)လထက်မနည်း ဆက်တိုက်ဆောင်ရွက်ခြင်းငှာ မစွမ်းနိုင်ခြင်း၊

(၆) မြေအငှားချထားခြင်းခံရသူကလူမွဲအဖြစ်ခံယူခြင်းသို့မဟုတ်ကုမ္ပဏီအားစာရင်းရှင်းလင်းဖျက်သိမ်းခြင်း။

၁၃။ **မြေသို့ပြန်လည်ဝင်ရောက်ခွင့်**

မြေအငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါ တာဝန်တစ်ရပ်ကို ဆောင်ရွက်ရန် ပျက်ကွက်လျှင် သို့မဟုတ် စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်လျှင် မြေအငှားချထားသူက ယင်းပျက်ကွက်မှု သို့မဟုတ် ဖောက်ဖျက်မှုကို အကြောင်းကြားစာ ပေးပို့ပြီးနောက် ရက်ပေါင်း (၃၀)အတွင်း လိုက်နာဆောင်ရွက်ခြင်းမရှိလျှင် မြေအငှားချထားသူသည် ငှားရမ်းသည့်မြေနှင့် ယင်းမြေပေါ်ရှိ အကျိုးခံစားခွင့် အရပ်ရပ်တို့ကို ပြန်လည်လက်ရောက်ရယူခွင့်ရှိသည်။ ထိုအခါ ဤစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်ရမည်ဟူ၍ နှစ်ဦးနှစ်ဘက် သဘောတူကြပါသည်။ ဤစာချုပ်ပါ မြေအငှားချထားသူက မြေအငှားချထားခြင်းခံရသူထံမှ ရရှိမည့် အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

၁၄။ **အငြင်းပွားမှုဖြေရှင်းခြင်း**

ဤစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံ တစ်ရာပေါ်ပေါက်ပါက စာချုပ်ဝင် နှစ်ဦးနှစ်ဘက် ငြိမ်းချမ်းသော နည်းလမ်းဖြင့် ဖြေရှင်းရမည်။ အငြင်းပွားမှုအား ငြိမ်းချမ်းစွာဖြေရှင်း၍ မရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကိုခံ ယူရမည်။ စီရင်ပိုင်ခွင့်ရှိသော တရားရုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ရန်ကုန်မြို့ ဖြစ်စေရမည်။

## ၁၅။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ ငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျယ်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် မြေငှားချထားခြင်းခံရသူသည် မြေငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။ ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ် သည့်အချိန်မှ (၁၄)ရက်အတွင်း မြေငှားချထားခြင်းခံရသူသည် မြေငှားချထားသူသို့ ချက်ချင်းစာ ဖြင့် ရေးသားအကြောင်း ကြားရမည်။ မြေငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်း အခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

## ၁၆။ **စာချုပ်ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း**

(၁) ဤစာချုပ်ချုပ်ဆိုအတည်ဖြစ်ပြီးနောက် ကြိုတင်မျှော်မှန်းထားခြင်းမရှိသော အခြေအနေသို့ အကြောင်းအရာတစ်ရပ်ရပ် ပေါ်ပေါက်ခြင်းကြောင့် ဤစာချုပ်ပါ စည်းကမ်းချက် တစ်စုံတစ်ရာအား ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း သို့မဟုတ် ဖြည့်စွက်ခြင်း ပြုလုပ်ရန်လိုအပ်လျှင် ဤစာချုပ်ဝင် နှစ်ဦးနှစ်ဘက် ညှိနှိုင်းပြီး သဘောတူညီချက်အရ စာဖြင့်ရေးသား၍ နှစ်ဦးနှစ်ဘက်လက်မှတ်ရေးထိုးပြီး ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း သို့မဟုတ် ဖြည့်စွက်ခြင်း ပြုလုပ်နိုင်သည်။

(၂) ယင်းသို့ စာဖြင့်ရေးသား၍ စာချုပ်ဝင်များလက်မှတ်ရေးထိုးထားသည့် ပြင်ဆင်ချက်သို့မဟုတ်ပြောင်းလဲချက်ကိုဖြစ်စေ၊ ဖြည့်စွက်ချက်ကိုဖြစ်စေ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ပို့ဆောင်ရေးဝန်ကြီးဌာနသို့တင်ပြပြီး အတည်ပြုချက်တောင်းခံရမည်။ ထိုသို့တင်ပြပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ပို့ဆောင်ရေးဝန်ကြီးဌာန၏ သဘောတူခွင့်ပြုချက်ရရှိမှသာ ဤစာချုပ်၏ အစိတ်အပိုင်းအဖြစ် ဤစာချုပ်ဝင်များအပေါ် တရားဝင်အကျိုး သက်ရောက်မှုရှိစေရမည်။

## ၁၇။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

မြေအငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေ၊ ရေ၊ မြေ ညစ်ညမ်းခြင်းမရှိစေရန်နှင့် သဘာဝအနေအထား ပျက်စီးခြင်းမရှိစေရန်လည်းကောင်း၊ ပတ်ဝန်းကျင်နယ်မြေတွင် အလားတူဆောင်ရွက်မှုများကို ထိပါးနှောင့်ယှက်ခြင်း မရှိစေရန်လည်းကောင်း၊ လိုအပ်သောအကာအကွယ်များကို ကြိုတင်စီမံဆောင်ရွက်ထားရှိရမည်။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် လိုက်နာအကောင်အထည်ဖော်ရမည်။

## ၁၈။ **အထွေထွေကိစ္စရပ်များ**

(၁) ဤစာချုပ်ပါ စည်းကမ်းချက်များသည် ဤစာချုပ်ဝင် နှစ်ဦးနှစ်ဘက်တို့အကြား၌ ယခင်ကရှိခဲ့သော အပြန်အလှန်နားလည်မှုများ၊ သဘောတူညီချက်များ အားလုံးကို လွှမ်းမိုးသည်။

(၂) ဤစာချုပ်တွင် ပူးတွဲထားရှိသော နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တဒေသအဖြစ် မှတ်ယူရမည်။

(၃) ဤစာချုပ်ဝင် နှစ်ဘက်အချင်းချင်း စာပေးစာယူ အဆက်အသွယ် ပြုလုပ်ကြရန် လိပ်စာမှာ အောက်ဖော်ပြပါ လိပ်စာများအတိုင်းဖြစ်သည်။ အကယ်၍ ဆက်သွယ်ရန် လိပ်စာအပြောင်းအလဲရှိပါက အခြားတစ်ဘက်အားသိရှိနိုင်ရန် အသိပေးအကြောင်းကြားရမည်-

| | | | |
|---|---|---|---|
| အမည် | - ဦးဝင်းဆွေထွန်း | အမည် | - ဦးအေးထွန်း |
| ရာထူး | - ညွှန်ကြားရေးမှူးချုပ် | ရာထူး | - မန်နေးဂျင်းဒါရိုက်တာ |
| ဌာန | - လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန။ | ဌာန | - Golden Hanthawaddy Co., Ltd |
| လိပ်စာ | - ရန်ကုန်မြို့ | လိပ်စာ | - အမှတ်(၄၀၂) ကမ်းနားလမ်း လသာမြို့နယ်၊ ရန်ကုန်မြို့ |
| ဖုံး | - ၉၅ ၁ ၅၃၃၀၁၅ | ဖုံး | - ၉၅ ၉ ၅၁၄၇၂၈၈ |

ဤသဘောတူစာချုပ်ပါ အကြောင်းအရာများကို စာချုပ်ဝင်နှစ်ဦးနှစ်ဘက်တို့ ဖတ်ရှုသိရှိပြီး၊ မိမိတို့၏ လွတ်လပ်သောသဘောဆန္ဒဖြင့် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ ရန်ကုန်မြို့ တွင် ၂၀၁၄ ခုနှစ် ဩဂုတ်လ ( )ရက်နေ့တွင် တာဝန်ယူလက်မှတ် ရေးထိုးချုပ်ဆိုကြပါသည်။

**မြေအငှားချထားသူ (ကိုယ်စား)**

လက်မှတ် -

အမည် - ဦးဝင်းဆွေထွန်း

ရာထူး - ညွှန်ကြားရေးမှူးချုပ်

ဌာန - လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှု ဦးစီးဌာန။

လိပ်စာ - ရန်ကုန်မြို့

**မြေအငှားချထားခြင်းခံရသူ (ကိုယ်စား)**

လက်မှတ်-

အမည် - ဦးအေးထွန်း

ရာထူး - မန်နေးဂျင်းဒါရိုက်တာ

ဌာန - Golden Hanthawaddy Co., Ltd

လိပ်စာ - အမှတ်(၄၀၂) ကမ်းနားလမ်း လသာမြို့နယ်၊ ရန်ကုန်မြို့

**အသိသက်သေများ**

လက်မှတ် -

အမည် - ဦး

ရာထူး -

ဌာန - လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှု ဦးစီးဌာန

လိပ်စာ - ရန်ကုန်မြို့

လက်မှတ်-

အမည် - ဦး

ရာထူး -

ဌာန -

လိပ်စာ - အမှတ်(၄၁) ရွှေတောင်ကြားလမ်း ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

သံတွဲလေဆိပ်အတွင်း တည်ရှိသည့်မြေနေရာတွင် ဆောက်လုပ်မည့် 3 Star အဆင့် Thandwe Airport Beach Hotel နှင့် အဆောက်အဦများ၏ ပုံစံအား ပူးတွဲတင်ပြပါသည်။

# Thandwe Airport



DEPARTMENT OF CIVIL AVIATION, MYANMAR
DCA HEAD OFFICE, YANGON INTERNATIONAL AIRPORT, MINGALADON, YANGON 11021, MYANMAR

Ref : DCA/ASSD/1338 / 2014/ 4557

Date : 13th June, 2014

To:

1) Golden Hanthawaddy Co.Ltd
   402, Strand Road, Latha Township, Yangon
   Email: ayetun172@gmail.com
2) Parami Energy Pipeline Construction Co.Ltd
   9th Floor, MMB Tower, Upper Pansodan Road, Yangon
   Fax: 951 255109

Cc: Ministry of Transport, Nay Pyi Taw

**Subject: Announcement of Successful Tenderer for Thandwe Airport Beach Hotel Project**

The Tender Selection Committee formed by the Ministry of Transport has evaluated the proposal document submitted by two applicants for the Thandwe Airport Beach Hotel Project and has selected the successful applicant.

Accordingly, the Tender Selection Committee hereby announces the following successful tenderer for the Thandwe Airport Beach Hotel Project.

**Golden Hanthawaddy Co.Ltd**

The successful tenderer shall submit draft Agreement and make process to be obtained permission from Myanmar Investment Commission.

Yours faithfully,

Win Swe Tun
Director General
Department of Civil Aviation
(Secretary of Tender Selection Committee for Thandwe Airport Beach Hotel Project)

TEL. : (95-1)533015, (95-1)533013, FAX : (95-1)533016 E mail. : dca.myanmar@mptmail.net.mm

ဧရာဝတီဘဏ်လီမိတက် ရုံးချုပ်

AYEYARWADY BANK
your trusted partner

သို့

သက်ဆိုင်ရာ

စာအမှတ် ၊ အေဝိုင်အေ/ ချေးငွေ/ ၀၁၂၈ / ၂၀၁၄-၁၅။
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဧပြီလ (၁၀ ) ရက်။

အကြောင်းအရာ ။ ချေးငွေရယူထားကြောင်းထောက်ခံခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဧရာဝတီဘဏ်လီမိတက်တွင် ဦးထွေး(ခ)ဦးလှကြည် ဦးအေးထွန်း (Forever Green Right Co.,Ltd) ချေးငွေစာရင်းအမှတ် (A/C No- ၀၀၂၃၀၀၃၀ ၁၀၄၂၂၄၉၀)သည် ရန်ကုန်တိုင်း၊မင်္ဂလာတောင်ညွန့်မြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ် (၁၂-ဂျီ)၊ဦးပိုင်အမှတ် (၁-B)၊ဧရိယာ (၀.၂၄၈)ဧကရှိ ဦးမောင်ထွေး(ခ)ဦးလှကြည် အမည်ပေါက်နှစ်(၉၀)ဂရန်မြေကွက်နှင့်ယင်းမြေပေါ်ရှိ အဆောက်အဦအားအာမခံပေးအပ်၍ချေးငွေကျပ် (၂၀၀၀)သိန်းရယူထားသည်မှာမှန်ကန်ကြောင်းထောက်ခံအပ်ပါသည်။

နော်ခဝိခင်
ဒု-အထွေထွေမန်နေဂျာ

တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ ဓာတ်ပုံ
ATTORNEY HOLDER PHOTO

တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ၏အကြောင်းအရာ
PARTICULARS OF ATTORNEY HOLDER

၁။ အမည် ..........
NAME

၂။ မှတ်ပုံတင်အမှတ် ..........
REGISTRATION NO.

၃။ အလုပ်အကိုင် ..........
OCCUPATION

၄။ နေရပ်လိပ်စာ ..........
ADDRESS

၅။ တယ်လီဖုန်းအမှတ် ..........
TELEPHONE NO.

ဤစာအုပ်တွင် စာမျက်နှာ ( ၃၂ ) ပါဝင်ပါသည်။
THIS PASSBOOK CONSISTS OF (32) PAGES.



Book.5

စာရင်းအမှတ် FDF.10.0265
ACCOUNT NO.





MICE

22/8/17

စာရင်းပိုင်ရှင်၏ဓာတ်ပုံ
ACCOUNT HOLDER PHOTO

စာရင်းပိုင်ရှင်၏ အကြောင်းအရာ
PARTICULARS OF ACCOUNT HOLDER

Forever Green Right Service Co., Ltd

၁။ အမည် 1. U Aye Tun
NAME 2. U Aye Kyaw

၂။ မှတ်ပုံတင်အမှတ် 1. 12/MaGaTa(N)024028
REGISTRATION NO. 2. 12/MaGaTa(N)024029

၃။ အလုပ်အကိုင် 1. Managing Director
OCCUPATION 2. Director

၄။ နေရပ်လိပ်စာ No.402, Strand Rd, Latha Tsp, Ygn
ADDRESS

၅။ တယ်လီဖုန်းအမှတ် ..........
TELEPHONE NO.

26 AUG 2017

ထုတ်ပေးသည့်ရက်စွဲ ..........
DATE OF ISSUE

၃.



# မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်

## MYANMA INVESTMENT AND COMMERCIAL BANK

| စဉ် SR. | ရက်စွဲ DATE | အကြောင်းအရာ PARTICULARS | သွင်းငွေ DEPOSIT | | ထုတ်ငွေ WITHDRAWAL | | လက်ကျန်ငွေ BALANCE US.$ | | လက်မှတ် |
|---|---|---|---|---|---|---|---|---|---|
| | | B/f | | | | | 101820 | 43 | |
| | 21.11.14 | Comm | | | 97 | - | 101723 | 43 | |
| | 3.12.14 | Fr: Bright Light Co. Ltd. | 50000 | - | | | 151723 | 43 | |
| | 4.12.14 | To IRD | | | 31328 | 50 | 120394 | 93 | |
| | " | Comm | | | - | 97 | 120393 | 96 | |
| | 17.12.14 | Fr. Jewoo Mfg. Co. Ltd | 32000 | - | | | 152393 | 96 | |

# မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်

## MYANMA INVESTMENT AND COMMERCIAL BANK

| စဉ် SR. | ရက်စွဲ DATE | အကြောင်းအရာ PARTICULARS | သွင်းငွေ DEPOSIT | | ထုတ်ငွေ WITHDRAWAL | | လက်ကျန်ငွေ BALANCE US.$ | | လက်မှတ် |
|---|---|---|---|---|---|---|---|---|---|
| | | B/f | | | | | \152393 | 96 | (signature) |
| | 18.12.14 | RTT/14-15/ 09901 | | | 151500 | - | \100893 | 96 | (signature) |
| | ✓ | Comm. | | | 64 | - | 100829 | 96 | (signature) |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |

BANK
our trusted partner

Printed time: 09/12/2014 8:07:47 AM

# DEPOSIT STATEMENT

**From: 01/11/2014 To: 09/12/2014**

Account Number: 0023103010422490 Currency MMK

Name /U AYE TUN/U AYE KYAW/ FOREVER GREEN RIGHT SERVICE CO,LTD

NRC /12/-MA-GA-TA-(N)-024028/12/-MA-GA-TA-(N)-024029/2899/2011-2012

Address #NO(402),STRAND ROAD,LATHA TOWNSHIP,YANGON#NO9402),STRAND ROAD,LATHA TSP,YGN.#NO(402),STRAND ROAD,LATHA TSP:YGN

| No | Date | Cheque | TT | TC | Debit | Credit | Balance |
|---|---|---|---|---|---|---|---|
| | | | | | | BF | **-2,886,099,654.67** |
| 1 | 03/11/2014 | BB575661 | CH | WD | 21,000,000.00 | 0.00 | -2,907,099,654.67 |
| 2 | 03/11/2014 | BB575665 | CH | WD | 2,000,000.00 | 0.00 | -2,909,099,654.67 |
| 3 | 04/11/2014 | BB575666 | CH | WD | 500,000.00 | 0.00 | -2,909,599,654.67 |
| 4 | 10/11/2014 | BB575668 | CH | WD | 20,000,000.00 | 0.00 | -2,929,599,654.67 |
| 5 | 11/11/2014 | BB575667 | TR | WD | 1,950,000.00 | 0.00 | -2,931,549,654.67 |
| 6 | 12/11/2014 | | CH | DP | 0.00 | 12,875,000.00 | -2,918,674,654.67 |
| 7 | 14/11/2014 | | CH | DP | 0.00 | 15,500,000.00 | -2,903,174,654.67 |
| 8 | 17/11/2014 | | CH | DP | 0.00 | 11,600,000.00 | -2,891,574,654.67 |
| 9 | 18/11/2014 | | CH | DP | 0.00 | 1,200,000.00 | -2,890,374,654.67 |
| 10 | 18/11/2014 | | CH | DP | 0.00 | 2,000,000.00 | -2,888,374,654.67 |
| 11 | 18/11/2014 | | CH | DP | 0.00 | 26,625,000.00 | -2,861,749,654.67 |
| 12 | 18/11/2014 | | TR | DP | 0.00 | 10,000,000.00 | -2,851,749,654.67 |
| 13 | 20/11/2014 | | CH | DP | 0.00 | 5,000,000.00 | -2,846,749,654.67 |
| 14 | 24/11/2014 | | CH | DP | 0.00 | 24,000,000.00 | -2,822,749,654.67 |
| 15 | 25/11/2014 | BB575669 | CH | WD | 2,200,000.00 | 0.00 | -2,824,949,654.67 |
| 16 | 28/11/2014 | BB575670 | CH | WD | 4,300,000.00 | 0.00 | -2,829,249,654.67 |
| 17 | 01/12/2014 | BB575671 | CH | WD | 676,000.00 | 0.00 | -2,829,925,654.67 |
| 18 | 01/12/2014 | | CH | DP | 0.00 | 3,000,000.00 | -2,826,925,654.67 |
| 19 | 02/12/2014 | BB575672 | CH | WD | 2,000,000.00 | 0.00 | -2,828,925,654.67 |
| 20 | 04/12/2014 | | CH | DP | 0.00 | 26,000,000.00 | -2,802,925,654.67 |
| 21 | 05/12/2014 | | CH | DP | 0.00 | 14,300,000.00 | -2,788,625,654.67 |
| 22 | 05/12/2014 | BB575673 | TR | WD | 40,000,000.00 | 0.00 | -2,828,625,654.67 |
| 23 | 08/12/2014 | | CH | DP | 0.00 | 11,500,000.00 | -2,817,125,654.67 |
| 24 | 09/12/2014 | BB575674 | CH | WD | 1,000,000.00 | 0.00 | -2,818,125,654.67 |
| | | | | | | BALANCE | **-2,818,125,654.67** |

| Previous Balance | + | Total Deposit | - | Total Withdrawals | = | Total Balance |
|---|---|---|---|---|---|---|
| **-2,886,099,654.67** | + | **163,600,000.00** | - | **95,626,000.00** | = | **-2,818,125,654.67** |

No. of Withdrawals =

No. of Deposit =

Unless the Bank is immediately notified of any discrepancy found in the statement of account it will be taken that the account has been found correct

CH = Cash

TR = Transfer

CL = Clearing

T/T = Type of Transaction

# GOLDEN HANTHAWADDY CO., LTD.

402, Strand Road, Latha Township, Yangon, Myanmar . Tel : 95-1-381519, 381575, Fax : 95-1-381571
E-mail : ayetun172@gmail.com  atun@myanmar.com.mm

သို့

ညွှန်ကြားရေးမှူးချုပ်

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ရုံးအမှတ် (၃၂)၊ နေပြည်တော်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဧပြီလ (၂၃ ) ရက်၊

အကြောင်းအရာ။ **။ ကုမ္ပဏီ၏ လုပ်ငန်းရည်ရွယ်ချက်များအား ထပ်မံဖြည့်စွက်ခွင့်ပြုပါရန် တင်ပြခြင်း။**

၁။ ကျွန်တော်တို့ Golden Han Tha Waddy Co., Ltd သည် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၁၆၇၃/၂၀၀၇-၂၀၀၈ (၁၃-၂-၂၀၀၈) ဖြင့် ရောင်းဝယ်ရေးလုပ်ငန်းများကို မှတ်ပုံတင်ခဲ့ပြီး ရောင်းဝယ်ရေးလုပ်ငန်းများကိုသာ ဆောင်ရွက်ခွင့်ပြုထားပါသည်။

၂။ ယခုအခါ ကျွန်တော်တို့ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းပါ ခွင့်ပြုသည့် ရောင်းဝယ်ရေးလုပ်ငန်းများအပြင် ကျန်လုပ်ငန်းများဖြစ်သော ဆောက်လုပ်ရေးလုပ်ငန်း၊ ထုတ်လုပ်မှုလုပ်ငန်း၊ ဝန်ဆောင်မှုလုပ်ငန်း၊ ကျောက်မျက်လုပ်ငန်း၊ ခရီးသွားလုပ်ငန်း၊ ဟော်တယ်လုပ်ငန်း၊ အသေးစားငွေရေးကြေးရေးလုပ်ငန်းနှင့် ပညာရေးဝန်ဆောင်မှုလုပ်ငန်းများ (လုပ်ငန်းစုံ) အား ထပ်မံဖြည့်စွက်၍ လွယ်ကူလျင်မြန်စွာအလုပ်လုပ်ခွင့်ပြုပါရန် လေးစားစွာလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

AYE TUN
MANAGING DIRECTOR
Golden Han Tha Waddy Co.,Ltd

GOLDEN HANTHAWADDY CO., LTD.
402, Strand Road, Latha Township, Yangon, Myanmar . Tel : 95-1-381519, 381575, Fax : 95-1- 381571
E-mail : ayetun172@gmail.com atun@myanmar.com.mm

## သာမန်ထက်ထူးကဲသော အစည်းအဝေးမှတ်တမ်း

| | |
|---|---|
| အစည်းအဝေးဖိတ်ကြားသည့်နေ့ရက် | ၉. ၄. ၂၀၁၄ |
| အစည်းအဝေးကျင်းပသည့်နေ့ရက် | ၂၂. ၄. ၂၀၁၄ |
| အစည်းအဝေးကျင်းပသည့်အချိန် | နံနက် (၁၀:၀၀) နာရီ |
| အစည်းအဝေးကျင်းပသည့်နေရာ | ကုမ္ပဏီရုံးခန်း |

**အစည်းအဝေးတက်ရောက်သူများ**

| | | | |
|---|---|---|---|
| ၁။ | ဦးအေးထွန်း | မန်နေဂျင်းဒါရိုက်တာ | Aye Tun |
| ၂။ | ဦးအေးကျော် | ဒါရိုက်တာ | (signature) |
| ၃။ | ဦးအောင်စိုးမိုး | ဒါရိုက်တာ | (signature) |

**အစည်းအဝေးဆုံးဖြတ်ချက်များ**

၁။ အစည်းအဝေးတွင် သဘာပတိအဖြစ် မန်းနေဂျင်းဒါရိုက်တာ ဦးအေးထွန်း ဆောင်ရွက်ပြီး ကုမ္ပဏီအနေဖြင့် ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီ (၁၃) ရက်နေ့မှစ၍ ရောင်းဝယ်ရေးလုပ်ငန်းများဆောင်ရွက်ရန် မှတ်ပုံတင်ခဲ့ပြီး ကုမ္ပဏီကို ရောင်းဝယ်ရေးလုပ်ငန်းဖြင့်သာ ဆောင်ရွက်ခဲ့ပါသည်။

၂။ ယခုအခါ ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် အခြားသောစီးပွားရေးလုပ်ငန်းများကို အဆင်ပြေလွယ်ကူချောမွေ့စွာ လုပ်ကိုင်နိုင်ရန်အတွက် သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းပါ ခွင့်ပြုထားသည့် ရောင်းဝယ်ရေးလုပ်ငန်းအမျိုးအစားအပြင် ဆောက်လုပ်ရေးလုပ်ငန်း၊ ထုတ်လုပ်မှုလုပ်ငန်း၊ ဝန်ဆောင်မှုလုပ်ငန်း၊ ကျောက်မျက်လုပ်ငန်း၊ ခရီးသွားလုပ်ငန်း၊ ဟော်တယ်လုပ်ငန်း၊ အသေးစား ငွေရေးကြေးရေးလုပ်ငန်းနှင့် ပညာရေးဝန်ဆောင်မှု လုပ်ငန်းများ (လုပ်ငန်းစုံ) အား ထပ်မံဖြည့်စွက်၍ အလုပ်လုပ်ရန် လိုအပ်ကြောင်း ဆွေးနွေးဆုံးဖြတ်ကြပါသည်။

၃။ ဤအစည်းအဝေးဆုံးဖြတ်ချက်ကို ကုမ္ပဏီများမှတ်ပုံတင်ရုံးသို့ တင်ပြမှတ်ပုံတင်ရန် ဆွေးနွေးဆုံးဖြတ်ကြပြီး အစည်းအဝေးကို နံနက် (၁၀:၄၅) နာရီတွင် အောင်မြင်စွာရုပ်သိမ်းလိုက်ကြပါသည်။

**အတည်ပြုမှတ်တမ်းတင်သူ**

Aye Tun

AYE TUN
MANAGING DIRECTOR
Golden Han Tha Waddy Co.,Ltd.

GOLDEN HANTHAWADDY CO., LTD.
402, Strand Road, Latha Township, Yangon, Myanmar . Tel : 95-1-381519, 381575, Fax : 95-1- 381571
E-mail : ayetun172@gmail.com atun@myanmar.com.mm

## RESOLUTION OF EXTRA ORDINARY GENERAL MEETING

| | | |
|---|---|---|
| Date of Invitation | : | 9.4.2014 |
| Date of Meeting | : | 22.4.2014 |
| Time of Meeting | : | 10:00 A.M |
| Place of Meeting | : | Company's Office. |

**ATTENDANCE THE DIRECTORS HOLDING THE MEETING**

| | | |
|---|---|---|
| (1) | U Aye Tun | Managing Director |
| (2) | U Aye Kyaw | Director |
| (3) | U Aung Soe Moe | Director |

**Preliminiary Proceeding**

U Aye Tun Managing Director was elected Chairman of the Meeting. The Chairman declared the Meeting Opened and Introduced the Following matters.

**To Consider and Approve the minutes of the previous meeting**

The Chairman read out the minutes of the previous meeting, and asked the meeting to approve the same. The meeting considered and unanimously resolved a follow:

Resolves: That the minutes of the said meeting be approved.

**To addition and Subsititute the business in the Memorandum & Articles of Association of the Company**

The directors discussed the following matter and others to be implemented in future.

To submit this Special Resolution to Registrar, Company's Registration Office for approval. The Special meeting was brought to a close at 10:45 am.

**Recorded & Approved by:**

AYE TUN
MANAGING DIRECTOR
Golden Hanthawaddy Co., Ltd.

# GOLDEN HANTHAWADDY CO., LTD.

402, Strand Road, Latha Township, Yangon, Myanmar . Tel : 95-1-381519, 381575. Fax : 95-1- 381571
E-mail : ayetun172@gmail.com atun@myanmar.com.mm


## အထူးသဘောတူဆုံးဖြတ်ချက်

၁။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း

၂။ (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း

၃။ တိရိစ္ဆာန်မွေးမြူခြင်းနှင့် တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း

၄။ ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း

၅။ ဓာတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရိစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း

၆။ လူသုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း

၇။ အိမ်သုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း

၈။ ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများထုတ်လုပ်ခြင်း

၉။ လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများထုတ်လုပ်ခြင်း

၁၀။ ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများထုတ်လုပ်ခြင်း

၁၁။ စက်ရုံသုံးပစ္စည်းများထုတ်လုပ်ခြင်း

၁၂။ လျှပ်စစ်နှင့် အီလက်စရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း

၁၃။ အထည်အလိပ်နှင့် အဝတ်အထည်များထုတ်လုပ်ခြင်း

၁၄။ အစိုးရ၏ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသော ကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်

၁၅။ အောဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှုအတိုင်ပင်ခံများ နှင့် အကြံပေးဝန်ဆောင်မှုလုပ်ငန်းများ

၁၆။ ကြော်ငြာနှင့် ကြော်ငြာကိုယ်စားလှယ်လုပ်ငန်းများ

၁၇။ ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့်ပတ်သက်သည့်လုပ်ငန်းများ

၁၈။ ဆေးဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုး

၁၉။ သယ်ယူပို့ဆောင်ရေးလုပ်ငန်း (မီးရထားနှင့်လေကြောင်းမှအပ)

၂၀။ ပုံနှိပ်ထုတ်ဝေခြင်းလုပ်ငန်း

၂၁။ တိုင်းတာရေးနှင့် စစ်ဆေးရေးလုပ်ငန်း

၂၂။ စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိ၊ မရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ

၂၃။ စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေအကြံပေးဝန်ဆောင်မှုလုပ်ငန်းများ

၂၄။ ယာဉ်နှင့်စက်ကိရိယာအမျိုးမျိုး ကြံခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ

၂၅။ လျှပ်စစ်နှင့် အီလက်ထရောနစ်ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံတည်ဆောက်ခြင်း လုပ်ငန်းများ

၂၆။ ဆောက်လုပ်ရေးလုပ်ငန်း

Aye Tun

AYE TUN
MANAGING DIRECTOR
Golden Han Tha Waddy Co.,Ltd.

# GOLDEN HANTHAWADDY CO., LTD.

402, Strand Road, Latha Township, Yangon, Myanmar . Tel : 95-1-381519, 381575, Fax : 95-1- 381571
E-mail : ayetun172@gmail.com atun@myanmar.com.mm


၂၇။ ကျောက်မျက်လုပ်ငန်း

၂၈။ ခရီးသွားလုပ်ငန်း

၂၉။ ဟိုတယ်လုပ်ငန်း

၃၀။ အသေးစားငွေရေးကြေးရေးလုပ်ငန်း

၃၁။ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုး

AyeTun

AYE TUN
MANAGING DIRECTOR
Golden Han Tha Waddy Co.,Ltd.

002553

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်သက်တမ်းတိုးလက်မှတ်

အမှတ် ......၁၆၇၃../ ၂၀၀၇-၂၀၀၈

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ......ရွှေဟံသာဝတီ ကုမ္ပဏီ လီမိတက်...... ..................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၃ ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား ၂၀၁၂ ခုနှစ်၊ ....ဧပြီ...... လ ..၅... ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

( အောင်နိုင်ဦး )
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ..................1673...... of 2007-2008

I hereby certify that the tenure of GOLDEN HAN THA WADDY .......... COMPANY LIMITED. .......................................incorporated under the Myanmar Companies Act on ..........................13th FEBRUARY, 2008.................. is renewed affected from .....................5th APRIL, 2012..........................................

(AUNG NAING OO)
Director General
Directorate of Investment and Company Administration

...ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ...ဦးအေးထွန်း(၁၂/မဂတ(နိုင်)၀၂၄၀၂၈)...

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ ...အမှတ်(၄၀၂)၊ ကမ်းနားလမ်း၊ လသာ မြို့နယ်

...ရန်ကုန်မြို့။...

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ...၀၁-၃၈၀၅၁၀၉၊ ၀၁-၃၈၀၅၇၇၅...

(ဃ) ဒါရိုက်တာများ အမည်စာရင်း–...

(၁) ဦးအေးကျော်

၁၂/မဂတ(နိုင်)၀၂၄၀၂၉

(၂) ဦးအောင်စိုးမိုး

၁၂/ကမရ(နိုင်)၀၄၈၅၉၃

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁၃-၂-၂၀၁၂ )မှ ( ၁၂-၂-၂၀၁၅ )ရက်နေ့အထိ(၃)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်၊ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ဖြင့်ဆင်မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

( နန်းရီရီသန်း၊ ညွှန်ကြားရေးမှူး )

GOLDEN H... CO., LTD.
No............
Date.........

# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 14th of AUGUST 200 8
on the of 200 of the * GOLDEN HAN THA WADDY CO.,LTD.
Made pursuant to Section 104(1)

| | |
|---|---|
| Number of the shares allotted payable in cash ..... | 500 SHARES |
| " " " " ..... | |
| Nominal amount of the shares so allotted ... | KS.5,000,000/- |
| " " " " ..... | |
| Amount paid or due and payable on each such share ..... | KS.10,000/- |
| " " " " ..... | ( FULLY PAID UP) |

Number of ordinary shares allotted for a consideration other than cash
Nominal amount of the ordinary shares so allotted .....
Amount to be treated as paid on each such share .....
The consideration for which such share have been allotted is as follows:-

---

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.

AYE TUN
MANAGING DIRECTOR
Golden Hantharwaddy Co., Ltd

Date.........

## Name, Address and Description of Allotees

| Names & N.R.C No | Address | Description | Number of Shares Allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. U AYE TUN 12/MA GA TA(NAING) 024028 | NO.172,UPPER PANSODAN STREET,MINGALAR TAUNG NYUNT TOWNSHIP, YANGON DIVISION. | MERCHANT | | 240 |
| 2. U AYE KYAW 12/MA GA TA(NAING) 024029 | NO.172,UPPER PANSODAN STREET,MINGALAR TAUNG NYUNT TOWNSHIP, YANGON DIVISION. | MERCHANT | | 240 |
| 3. U AUNG SOE MOE 12/KA MA YA(NAING) 048593 | BUILDING NO.(4),ROOM NO.(18),PYI YEIK MON HOUSING,KAMAYUT TOWNSHIP,YANGON DIVISION. | MERCHANT | | 10 |
| 4. U MYO THWE TUN 12/LA MA NA(NAING) 099441 | NO.98,SABE CHAN(2), STREET,HLAING TOWNSHIP, YANGON DIVISION. | MERCHANT | | 10 |
| | | | TOTAL | 500 SHARES |

Signature

AYE TUN
MANAGING DIRECTOR
Golden Hantharwaddy Co., Ltd.

Date 14.8.2008.

Description of Allotees

GOLDEN HANTHARWADDY CO., LTD.
No. ..........
Date. ..........

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : GOLDEN HAN THA WADDY CO.,LTD. Presented by : U AYE TUN(M.D)

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U AYE TUN | MYANMAR 12/MA GA TA(NAING) 024028 | NO.172 UPPER PANSODAN STREET,MINGALAR TAUNG NYUNT TOWNSHIP,YANGON DIVISION. | MERCHANT | APPOINTED AS MANAGING DIRECTOR w.e.f(14.8.2008) |
| 2. U AYE KYAW | MYANMAR 12/MA GA TA(NAING) 024029 | NO.172,UPPER PANSODAN STREET,MINGALAR TAUNG NYUNT TOWNSHIP,YANGON DIVISION. | MERCHANT | APPOINTED AS DIRECTOR w.e.f(14.8.2008) |
| 3. U AUNG SOE MOE | MYANMAR 12/KA MA YA(NAING) 048593 | BUILDING NO.(4),ROOM NO.(18),PYI YEIK MON HOUSING,KAMAYUT TOWNSHIP,YANGON DIVISION. | MERCHANT | APPOINTED AS DIRECTOR w.e.f(14.8.2008) |
| 4. U MYO THWE TUN | MYANMAR 12/LA MA NA(NAING) 099441 | NO.(98),SABE CHAN(2)STREET,HLAING TOWNSHIP, YANGON DIVISION. | MERCHANT | APPOINTED AS DIRECTOR w.e.f(14.8.2008) |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of .............................. and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated : 14.8.2008.

Signature ..........

AYE TUN

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# ရွှေဟံသာဝတီ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

## Memorandum Of Association

*AND*

## Articles Of Association

*OF*

# GOLDEN HAN THA WADDY COMPANY LIMITED

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေဟံသာဝတီ ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖❖❖

၁။ ကုမ္ပဏီ၏အမည်သည် **"ရွှေဟံသာဝတီ ကုမ္ပဏီ လီမိတက်"** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်အလုပ်တိုက်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် ကျပ် ၁,၀၀၀,၀၀၀,၀၀၀/-(ကျပ်သန်းတစ်ထောင်တိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀/-(ကျပ်တစ်သောင်းတိတိ)တန် အစုရှယ်ယာပေါင်း (၁၀၀,၀၀၀)ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်သော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

(၁) အောက်ဖော်ပြပါ အစိုးရကခွင့်ပြုသော ကုန်ပစ္စည်းများနှင့်ထုတ်ကုန်များကို မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်း၊ ပြည်ပပုဂ္ဂိုလ်များနှင့်ဖက်စပ်၍ဖြစ်စေ သွင်းကုန်လုပ်ငန်းရှင်များ၊ ထုတ်ကုန်လုပ်ငန်းရှင်များ၊ လက်လီလက်ကားရောင်းချသူများ၏ ကူးသန်းရောင်းဝယ်ရေးဆိုင်ရာ လုပ်ငန်းများကို လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့်ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ၊

(ခ) ရေထွက်ကုန်ပစ္စည်းများ၊

(ဂ) လူသုံးကုန်ပစ္စည်းများ၊

(ဃ) ယာဉ်နှင့်စက်ကိရိယာနှင့်အပိုပစ္စည်းများ၊

(င) စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများ၊

(၂) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသောဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသောအစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | **ဦးအေးထွန်း**<br>အမှတ်-၁၇၂၊ အထက်ပန်းဆိုးတန်းလမ်း၊<br>မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/မဂတ (နိုင်)<br>၀၂၄၀၂၈ | ၂၄၀ | (signature) |
| ၂။ | **ဦးအေးကျော်**<br>အမှတ်-၁၇၂၊ အထက်ပန်းဆိုးတန်းလမ်း၊<br>မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/မဂတ (နိုင်)<br>၀၂၄၀၂၉ | ၂၄၀ | (signature) |
| ၃။ | **ဦးအောင်စိုးမိုး**<br>တိုက်အမှတ်-၄၊ အခန်းအမှတ်-၁၈၊<br>ပြည်ရိပ်မွန်အိမ်ရာ၊ ကမာရွတ်မြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/ကမရ (နိုင်)<br>၀၄၈၅၉၃ | ၁၀ | (signature) |
| ၄။ | **ဦးမျိုးသွယ်ထွန်း**<br>အမှတ်-၉၈၊ စပယ်ခြံ (၂) လမ်း၊<br>လှိုင်မြို့နယ်၊ ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/လမန (နိုင်)<br>၀၉၉၄၄၁ | ၁၀ | (signature) |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၇-ခုနှစ်၊ ဇန်နဝါရီလ၊ ၃၀ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

(signature)

U SEIN HAN
( B. A., C. P. A. )
AUDITOR

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေဟံ့သာဝတီ ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖❖❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၇ (၂) တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီကခန့်အပ်ထားသောဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်)တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာ ကျပ် **၁,၀၀၀,၀၀၀,၀၀၀/-** **(ကျပ်သန်းတစ်ထောင်တိတိ)** ဖြစ်၍ ငွေကျပ် **၁၀,၀၀၀/-(ကျပ်တစ်သောင်းတိတိ)**တန် အစုရှယ်ယာပေါင်း (**၁၀၀,၀၀၀**)ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်သော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေတစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည်ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများကသင့်လျော်သည်ဟုယူဆသော အခြားသက်သေခံအထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသောအစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့်အကြိမ်တိုင်းအတွက် ဒါရိုက်တာများကသတ်မှတ်သည့်ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေ ရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ်ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများကသတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ်အစည်းအဝေးက တစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှုမပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် (၂) ဦးထက်မနည်း၊ (၁၅) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) ဦးအေးထွန်း
(၂) ဦးအေးကျော်
(၃) ဦးအောင်စိုးမိုး
(၄) ဦးမျိုးသွယ်ထွန်း ---- တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့်ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့ကပေးအပ်သော အာဏာများအားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သောအရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာအနည်းဆုံး (၁၀) စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့်အကြောင်းပြချက်မျှမပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးအထမြောက်ရမည်။အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေးခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အကျိုးအကြောင်းဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုး [illegible] ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟု

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါ စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တ များကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင် တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာချွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာ လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာ တွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသောဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှ သည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသောအစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | **ဦးအေးထွန်း**<br>အမှတ်-၁၇၂၊ အထက်ပန်းဆိုးတန်းလမ်း၊<br>မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/မဂတ (နိုင်)<br>၀၂၄၀၂၈ | ၂၄၀ | (signed) |
| ၂။ | **ဦးအေးကျော်**<br>အမှတ်-၁၇၂၊ အထက်ပန်းဆိုးတန်းလမ်း၊<br>မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/မဂတ (နိုင်)<br>၀၂၄၀၂၉ | ၂၄၀ | (signed) |
| ၃။ | **ဦးအောင်စိုးမိုး**<br>တိုက်အမှတ်-၄၊ အခန်းအမှတ်-၁၈၊<br>ပြည်ရိပ်မွန်အိမ်ရာ၊ ကမာရွတ်မြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/ကမရ (နိုင်)<br>၀၄၈၅၉၃ | ၁၀ | (signed) |
| ၄။ | **ဦးမျိုးသွယ်ထွန်း**<br>အမှတ်-၉၈၊ စပယ်ခြံ (၂) လမ်း၊<br>လှိုင်မြို့နယ်၊ ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/လမန (နိုင်)<br>၀၉၉၄၄၁ | ၁၀ | (signed) |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၇-ခုနှစ်၊ ဇန်နဝါရီလ၊ ၃၀ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

(signed)

U SEIN HAN
(R.A., C.P.A.)
AUDITOR

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# GOLDEN HAN THA WADDY COMPANY LIMITED

I. The name of the Company is **GOLDEN HAN THA WADDY COMPANY LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liablilty of the members is limited.

V. The authorised capital of the Company is Ks. **1,000,000,000/-** (**Kyats One Thousand Million Only**) divided into (**100,000**) shares of Ks.**10,000/-** (**Kyats Ten Thousand Only**) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

(1) To carry on the trading business of importers, exporters, wholesalers and retailers of the following commodities and products permitted by the Government, solely on its own or in join-venture with any foreign or local partners.

(a) Agricultural and farm produces.

(b) Marine products.

(c) Personal goods.

(d) Vehicles, Machinery and spares.

(e) Foodstuff and general merchandise.

(2) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

***PROVISO:*** - *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and/or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | **U Aye Tun**<br>No.172, Upper Pasodan Street,<br>Mingalar Taung Nyunt Township,<br>Yangon Division.<br>(Merchant) | Myanmar<br>12/ Ma Ga Ta<br>(Naing) 024028 | 240 | Aye Tun |
| 2 | **U Aye Kyaw**<br>No.172, Upper Pasodan Street,<br>Mingalar Taung Nyunt Township,<br>Yangon Division.<br>(Merchant) | Myanmar<br>12/ Ma Ga Ta<br>(Naing) 024029 | 240 | |
| 3 | **U Aung Soe Moe**<br>Building No. (4), Room No. (18),<br>Pyi Yeik Mon Housing, Kamayut Township,<br>Yangon Division.<br>(Merchant) | Myanmar<br>12/ Ka Ma Ya<br>(Naing) 048593 | 10 | |
| 4 | **U Myo Thwe Tun**<br>No.98, Sabe Chan (2) Street,<br>Hlaing Township, Yangon Division.<br>(Merchant) | Myanmar<br>12/ La Ma Na<br>(Naing) 099441 | 10 | |

Yangon. Dated the 30th day of January, 2007.

*It is hereby certified that the persons mentioned above put their signatures in my presence.*

U SEIN HAN
( B. A., C. P. A. )
AUDITOR

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

*OF*

# GOLDEN HAN THA WADDY COMPANY LIMITED

1. The regulations contined in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsis tent with the following Articles. The compulsory regulations stipulated in Section 17(2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   (a) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   (b) *Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. **1,000,000,000**/- (**Kyats One Thousand Million Only**) divided into (**100,000**) shares of Ks.**10,000**/- (**Kyats Ten Thousand Only**) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Bord of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to persons, and at the times and places appointed by the Directors. A call may be made payable by instlments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than (2) and not more than (15).

The first Directors shall be:-

(1) U Aye Tun
(2) U Aye Kyaw
(3) U Aung Soe Moe
(4) U Myo Thwe Tun

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least (10) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-
   *(1)* *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*
   *(2)* *all sales and purchases of goods by the Company;*
   *(3)* *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

1. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

2. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

3. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

4. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | **U Aye Tun**<br>No.172, Upper Pasodan Street,<br>Mingalar Taung Nyunt Township,<br>Yangon Division.<br>(Merchant) | Myanmar<br>12/ Ma Ga Ta<br>(Naing) 024028 | 240 | Aye Tun |
| 2 | **U Aye Kyaw**<br>No.172, Upper Pasodan Street,<br>Mingalar Taung Nyunt Township,<br>Yangon Division.<br>(Merchant) | Myanmar<br>12/ Ma Ga Ta<br>(Naing) 024029 | 240 | |
| 3 | **U Aung Soe Moe**<br>Building No. (4), Room No. (18),<br>Pyi Yeik Mon Housing, Kamayut Township,<br>Yangon Division.<br>(Merchant) | Myanmar<br>12/ Ka Ma Ya<br>(Naing) 048593 | 10 | |
| 4 | **U Myo Thwe Tun**<br>No.98, Sabe Chan (2) Street,<br>Hlaing Township, Yangon Division.<br>(Merchant) | Myanmar<br>12/ La Ma Na<br>(Naing) 099441 | 10 | |

Yangon. Dated the 30th day of January, 2007.

*It is hereby certified that the persons mentioned above put their signatures in my presence.*

**U BEIN HAN**
**( B. A., C. P. A. )**
**AUDITOR**